လျှို့ဝှက်

ပြည်ထောင်စုမြန်မာနိုင်ငံတော်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက-၆(ခ)/၀၃၀/၉၇(၁၀၀၃)
ရက်စွဲ၊ ၁၉၉၀ ခုနှစ်၊ ဇန်နဝါရီလ ၆ ရက်

အမှာစာ

အကြောင်းအရာ။ ။ မိကိုစနက်(ခ်)အင်ဒတ်စထရီလီမိတက်တည်ထောင်၍ စားသောက်ကုန်( Snack Food )များထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်းကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော မိကိုစနက်(ခ်)အင်ဒတ်စထရီလီမိတက် ( Mikko Snack Industry Ltd. ) တည်ထောင်၍ စားသောက်ကုန် ( Snack Food ) များ ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ရန်အဆိုပြုတင်ပြလာပါသည်။ ယင်း အဆိုပြုချက်ကို (၂-၁-၉၀) နေ့က ကျင်းပပြုလုပ်ခဲ့သည့်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁/၉၀) ကြိမ်မြောက်ကြိုတင်ညှိနှိုင်းအစည်းအဝေးသို့တင်ပြခဲ့ရာ လုပ်ငန်းဆောင်ရွက်ရန်မူအားဖြင့်သဘောတူပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အစည်းအဝေးသို့ဆက်လက်တင်ပြရန်ဆုံးဖြတ်ချက်အရတင်ပြခြင်းဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူ စက်ပစ္စည်းကိရိယာနှင့်ကုန်ကြမ်းပစ္စည်းများ ဝယ်ယူရန် ရွှေဆိုင်းငွေပေးချေခြင်းစနစ်သဘောတူစာချုပ်(မူကြမ်း)၊ မြေငှားသဘောတူစာချုပ်(မူကြမ်း)နှင့် ငွေရေးကြေးရေးဆိုင်ရာအထောက်အထားများကို နောက်ဆက်တွဲ(၁)တွင်တင်ပြထားပါသည်။

၂။ ဤလုပ်ငန်း၏မတည်ငွေရင်းပမာဏမှာအမေရိကန်ဒေါ်လာ (၃.၆၀) သန်း အပါအဝင်စုစုပေါင်း ကျပ် (၆၁.၆၀) သန်း ဖြစ်ပါသည်။ ယင်းတွင် ငွေသား ကျပ် (၂၀.၀၀) သန်း ၊ အဆောက်အဦတန်ဖိုး ကျပ် (၁၂.၀၁) သန်း ၊ စက်ပစ္စည်းကိရိယာတန်ဖိုး ကျပ် (၃.၆၀) သန်း [အမေရိကန်ဒေါ်လာ(၂၀.၆၀)

လျှို့ဝှက်

သန်း ] နှင့်ကုန်ကြမ်း ပစ္စည်း တန်ဖိုး ကျပ် (၁၈.၀၀) သန်း [အမေရိကန်ဒေါ်လာ (၃.၀၀) သန်း ] တို့ဝင်ရင်း နှီး မည်ဖြစ်ပါသည်။ စက်ပစ္စည်း နှင့်ကုန်ကြမ်းပစ္စည်း များ ကိုစင်ကာပူနိုင်ငံ M. Mark (Asia) Pte. Ltd. - မှ ရွှေ့ဆိုင်းငွေပေး ချေခြင်း စနစ်ဖြင့်ဝယ်ယူမည်ဖြစ်ပြီး တစ်နှစ်လျှင်အတိုး နှုန်း (၅) ရာခိုင်နှုန်း ဖြင့် (၄) နှစ်အတွင်း ပြန်လည် ပေး ဆပ်ရမည်ဖြစ်ပါသည်။

၃။ ဤလုပ်ငန်း ဆောင်ရွက်ရန်အတွက် ဦး ညီညီအောင်အမည်ဖြင့် အသုံး ပြုခွင့်ရရှိထား သော မြို့ရွာနှင့်အိုး အိမ်ဖွံ့ဖြိုးရေး ဦး စီး ဌာနပိုင် မြေကွက် အမှတ် (၄၆/က)၊ မြေတိုင်း ရပ်ကွက်အမှတ်ဇုန် (၁)၊ စက်မှုဇုန်၊ လှိုင်သာယာမြို့ နယ်ရှိ မြေအကျယ် (၀.၇၅၀၅) ဧက (၃၀၃၈.၀၂ စတုရန်း မီတာ) ကို ငှားရမ်း ၍ Mikko - အမှတ်တံဆိပ်ဖြင့် (Snack Food) များ ဖြစ်သည့် Prawn Cracker, Pillow Cracker, Prawn Stick - များ ထုတ်လုပ်ခြင်း လုပ်ငန်း ကို ဆောင်ရွက် မည်ဖြစ်ပါသည်။

၄။ ဤလုပ်ငန်း ၏ ပုံမှန်နှစ်ထုတ်လုပ်မှုနှင့် ရောင်း ဈေး နှုန်း များ မှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| စဉ် | အမျိုး အမည် | ပြည်ပ (၆၀ %) | | ပြည်တွင်း (၄၀ %) | |
|---|---|---|---|---|---|
| | | (US$/PKT) | (ထုပ်ရေ ထောင်ပေါင်း) | (Ks/PKT) | (ထုပ်ရေ ထောင်ပေါင်း) |
| ၁။ | Prawn Cracker | ၇.၀၀ | ၆၀၀ | ၇၀၀ | ၄၀၀ |
| ၂။ | Pillow Cracker/ Prawn Stick | ၅.၆၀ | ၁၄၄၀ | ၅၆၀ | ၉၆၀ |

၅။ ဤလုပ်ငန်း အတွက်လိုအပ် သောကုန်ကြမ်း များ ကိုပြည်တွင်း ၊ ပြည်ပ မှ ဝယ်ယူမည်ဖြစ်ပါသည်။

၆။ ဤလုပ်ငန်း ကို ဆောင်ရွက်ခြင်း ဖြင့်ပုံမှန်နှစ်တွင်ရရှိမည့် ဝင်ငွေနှင့်အသုံး စရိတ်ခန့်မှန်း ခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

ကျပ်သန်း

| | ပြည်တွင်း | နိုင်ငံခြား | စုစုပေါင်း |
|---|---|---|---|
| (က) ဝင်ငွေ | ၈၁၇.၆၀ | ၇၃.၅၈ | ၈၉၁.၁၈ |
| (ခ) အသုံး စရိတ် | ၈၁၁.၃၈ | ၆၅.၇၄ | ၈၇၇.၁၂ |
| (ဂ) အသားတင်အမြတ် | ၆.၂၂ | ၇.၈၄ | ၁၄.၀၆ |

၇။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်
တွင် ရရှိမည့်အကျိုးအမြတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| | | |
|---|---|---|
| (က) | ဝင်ငွေခွန် (အမေရိကန်ဒေါ်လာသန်း) | ၀.၂၃ |
| | (ကျပ်သန်း) | ၂.၆၆ |
| (ခ) | ကုန်သွယ်လုပ်ငန်းခွန် (ကျပ်သန်း) | ၈၁.၇၆ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် အမှတ် (၁) စက်မှုဝန်ကြီး
ဌာနသို့ သဘောထားမှတ်ချက်တောင်းခံထားဆဲဖြစ်ပါသည်။

၉။ ဤလုပ်ငန်း၏ ငွေရေးကြေးရေးဆိုင်ရာ အထောက်အထား
အဖြစ် ကမကထပြုသူ ဒေါ်နွယ်နီအေး၏ အာရှမနဘဏ်လီမိတက်ရှိ ဘဏ်စာရင်းကို တင်
ပြထားပါသည်။

၁၀။ ဤလုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်း (၂၇၀)
ဦးနှင့် ပြည်ပဝန်ထမ်း (၄) ဦး ခန့်ထားဆောင်ရွက်မည်ဖြစ်ပါသည်။

၁၁။ ဤလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် မော်တော်ယာဉ်တင်သွင်း
ခွင့်နှင့်ပတ်သက်၍ တည်ဆောက်ရေးကာလအတွင်း Saloon (၁) စီး၊ Pick-up
(၁) စီးနှင့် Truck (၁) စီး တို့ကို အခွန်အကောက်ကင်းလွတ်ခွင့်ဖြင့်လည်းကောင်း၊
လုပ်ငန်းစတင်ဆောင်ရွက်ချိန်တွင် Salnon (၁) စီး၊ Pick-up (၁) စီး
နှင့် Truck (၁) စီး တို့ကို အခွန်အကောက် (၅၀) ရာခိုင်နှုန်း သက်သာခွင့်ဖြင့်
လည်းကောင်း၊ တင်သွင်းမည့်စက်ပစ္စည်းများအနက် Air Conditioner 2HP
(၆) လုံးတို့ကို တင်သွင်းခွင့်ပြုရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏
(၁/၉၈) ကြိမ်မြောက်ကြိုတင်ညှိနှိုင်းအစည်းအဝေးမှ ဆုံးဖြတ်ခဲ့ပါသည်။

၁၂။ ဤလုပ်ငန်းကို ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ
သာလျှင်ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ပြီး၊ နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှုမရှိ
ကြောင်း၊ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်
များကို လိုက်နာမည်ဖြစ်ကြောင်းနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပွားစေ
ရန် လိုအပ်သော အစီအမံများ ပြုလုပ်ထားမည်ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါ
သည်။

၁၃။ မြန်မာနိုင်ငံသား များ ရင်း နှီး မြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါအခွန်ကင်း လွတ်ခွင့်နှင့်သက်သာခွင့်များ ကိုခံစား ခွင့်ပြုရန်လျှောက် ထား လာပါသည်။ ဥပဒေပုဒ်မ ၁၂ အရစီး ပွား ရေး လုပ်ငန်း စတင် သော နှစ် အပါအဝင်တစ်ဆက်တည်း (၃) နှစ်အတွက်ဝင်ငွေခွန်ကင်း လွတ်ခွင့် ပေး ရမည်ဖြစ် ပါသည်။ ဥပဒေပုဒ်မ ၁၃ အရအခွန်ကင်း လွတ်ခွင့်နှင့်သက်သာခွင့်များ ကိုတောင်း ခံထား ရာယင်း အပေါ် သုံး သပ်ကင်ပြချက်ကို ပူး တွဲတင်ပြထား ပါသည်။

၁၄။ <u>ဆုံး ဖြတ်ရန်အချက်။</u>

(က) မိုက်ကိုစနက်(ခ်) အင်ဒတ်ဒ်ထရီလီမိတက်မှ စား သောက် ကုန် (Snack Food) များ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန်သဘောတူ-မတူ။

(ခ) သဘောတူပါကအထက်အပိုဒ် (၁၃) ပါအခွန်ဆိုင်ရာ ကင်း လွတ်ခွင့်နှင့်သက်သာခွင့်များ ကိုခံစား ခွင့် ပြုရန်သဘောတူ-မတူ။

အတွင်း ရေး မှူး (ကိုယ်စား)
(မောင်မောင်ရီ၊ တွဲဖက်အတွင်း ရေး မှူး)

<u>မြန်မာနိုင်ငံရင်း နှီး မြှုပ်နှံမှုကော်မရှင်။</u>



* အေး * ၅-၁-၉၀

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များ ရရှိရေးအတွက် လျှောက်ထားချက်အပေါ် အောက်ပါအတိုင်း သုံးသပ်တင်ပြပါသည်။

- ဥပဒေပုဒ်မ ၁၃(က) အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင်ပါဝင်သော နိုင်ငံခြားငွေပမာဏအပေါ် မူတည်၍ ဝင်ငွေခွန်သက်သာခွင့်နှင့်ပတ်သက်၍ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့်ပမာဏကို ဖော်ပြလျက် ကော်မရှင်သို့ လျှောက်ထားလာသည့်အခါစဉ်းစားခွင့်ပြုသင့်ပါသည်။
- ဥပဒေပုဒ်မ ၁၃(ခ) အရ လုပ်ငန်းမှ ပြည်ပတင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့် ရရှိသည့်အမြတ်ငွေအပေါ် ၅၀ ရာခိုင်နှုန်း ဝင်ငွေခွန်သက်သာခွင့်နှင့်ပတ်သက်၍ လုပ်ငန်း၏အမှန်တကယ်အကောင်အထည်ဖော်နိုင်မှုအခြေအနေကို ဖော်ပြလျက်ပထမ ဝင်ငွေခွန်ကင်းလွတ်ခွင့် (၃) နှစ်ခံစားပြီး နောက် ကော်မရှင်သို့ လျှောက်ထားလာသည့်အခါစဉ်းစားခွင့်ပြုသင့်ပါသည်။
- ဥပဒေပုဒ်မ ၁၃(ဂ) အရ ကုန်ထုတ်လုပ်မှုကြောင့်ပြည်တွင်းဖြည့်ပ ဝင်ငွေတိုးတက်မှုရှိပါကသတ်မှတ်ချက်နှင့်အညီဝင်ငွေခွန်သက်သာခွင့်ကိုလုပ်ငန်းအကောင်အထည်ဖော်မှုအရ လျှောက်ထားလာသည့်အခါစဉ်းစားခွင့်ပြုသင့်ပါသည်။
- ဥပဒေပုဒ်မ ၁၃(ဃ) အရ သွင်းကုန်အစားထိုး လုပ်ငန်းအဖြစ်အကျိုးအမြတ်နည်းသည့်လုပ်ငန်းအပေါ်သင့်လျော်သောကာလအတိ ဝင်ငွေခွန်သက်သာခွင့်တောင်းခံခြင်းကိုအကျုံးဝင်ခြင်းမရှိဟုသုံးသပ်ရပါသည်။

- ဥပဒေပုဒ်မ ၁၃ (စ) အရ လုပ်ငန်းမှ ရရှိသည့်အမြတ်ငွေကို တစ်နှစ်အတွင်း ပြန်လည်ရင်းနှီးမြှုပ်နှံပါက ထိုအမြတ်ငွေပေါ်၌ ကျသင့်ဝင်ငွေခွန်ကင်းလွတ်ခွင့်သို့မဟုတ်သက်သာခွင့်ကိုအမှန်တကယ် ပြန်လည်ရင်းနှီးမြှုပ်နှံမှုပြုသည့်အခါ လျှောက်ထားလာပါက ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ဆ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ်တန်ဖိုးလျော့ငွေကိုသတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုကို နှင့်မူလတန်ဖိုး ပြည့်မီသည်အထိအမြတ်ငွေမှ နှုတ်ပယ်ခွင့်နှင့်ပတ်သက်၍ လျှောက်ထားလာသည့်အခါ ကော်မရှင်မှသတ်မှတ်သည့်နှုန်း အတိုင်း ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ဇ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလ အတွင်း တင်သွင်းလာသည့်စက်ပစ္စည်းများ အပေါ်အကောက် ခွန်နှင့်အခြားပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့် ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ဈ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလ ကုန်ဆုံး၍ ပထမ (၃) နှစ်အတွက် တင်သွင်းသည့်လုပ်ငန်းသုံး ပစ္စည်းများ အပေါ်ကွင်အကောက်ခွန်နှင့်အခြားပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ည) အရ ထုတ်လုပ်မည့်ပစ္စည်းများ ပြည်ပ သို့တင်ပို့ရောင်းချမှုအပေါ်ကုန်သွယ်လုပ်ငန်း ခွန်ကင်းလွတ် ခွင့်ကိုခွင့်ပြုသင့်ပါသည်။

## လုပ်ငန်း စီမံကိန်း အဆိုပြုချက်၏ အဓိကအချက်များ
## (မြန်မာနိုင်ငံသား များ ရင်းနှီး မြှုပ်နှံမှုဥပဒေအရ)

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | မီကိုစနက်(ခ်)အင်ဒတ်စ်ထရီလီမိတက် ( Mikko Snack Industry Ltd ) |
| ၂။ | လုပ်ငန်း အဆိုပြုသူအမည် | ဒေါ်နွယ်နီအေး |
| ၃။ | အဆိုပြုလုပ်ငန်း အမျိုး အစား | Mikko အမှတ်တံဆိပ်ဖြင့် ( Snack Food) များ ဖြစ်သည့် Prawn Cracker, Pillow Cracker, Prawn Stick များ ထုတ်လုပ်ခြင်း လုပ်ငန်း |
| ၄။ | တည်နေရာ | မြေကွက်အမှတ် (၄၆/က)၊ မြေတိုင်းရပ်ကွက် အမှတ်ဇုန် (၁)၊ စက်မှုဇုန်၊ လှိုင်သာယာမြို့နယ်။ |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | ကျပ် ၆၁.၆၀ သန်း ( US$ ၃.၆၀ သန်း အပါအဝင် ) |
| | - ငွေပမာဏ | ကျပ် ၂၈.၀၀ သန်း |
| | - အဆောက်အဦ | ကျပ် ၁၂.၀၀ သန်း |
| | - စက်ပစ္စည်းကရိယာ | ကျပ် ၃.၆၀ သန်း ( US$ ၀.၆၀ သန်း ) |
| | - ကုန်ကြမ်းပစ္စည်းများ | ကျပ် ၁၈.၀၀ သန်း ( US$ ၃.၀၀ သန်း ) |
| ၆။ | မြေအကြောင်းအရာ | |
| | - မြေအကျယ်အဝန်း | ၀.၇၅၀၅ ဧက ( ၃၀၃၈.၀၂ စတုရန်းမီတာ ) |
| | - မြေအမျိုးအစား | စက်မှုမြေ |
| | - မြေပိုင်ဆိုင်မှု | ဦးညီညီအောင်အမည်ဖြင့်အသုံးပြုခွင့်ရရှိထားသော မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနပိုင် မြေကိုငှားရမ်းအသုံးပြုမည်ဖြစ်ပါသည်။ |
| ၇။ | ထုတ်လုပ်မှု ( နှစ်စဉ် ) | ထုပ်ရေ ထောင် ပေါင်း ( ၂၀ gm ရှိအထုပ်သေး ၅၀ ပါအထုပ်ကြီး ) |
| | - Prawn Cracker | ၁၀၀၀ |
| | - Pillow Cracker/Prawn Stick | ၂၄၀၀ |

| | | | |
|---|---|---|---|
| ၈။ | ရောင်း ချမှုစနစ် | | |
| | - ပြည်တွင်း | ၄၀% | |
| | - ပြည်ပ | ၆၀% | |
| ၉။ | ရောင်းဈေးနှုန်း (ပုံမှန်နှစ်) | ပြည်တွင်း (Ks/Pkt) | ပြည်ပ (US$/Pkt) |
| | - Prawn Cracker | ၁၀၀ | ၁.၀၀ |
| | - Pillow Cracker/ Prawn Stick | ၅၆၀ | ၅.၆၀ |
| ၁၀။ | ဝင်ငွေ (ပုံမှန်နှစ်) | | |
| | - နိုင်ငံခြားငွေဖြင့် | US$ ၁၂.၂၆ သန်း | |
| | - ကျပ်ငွေဖြင့် | ကျပ် ၈၁၇.၆၀ သန်း | |
| ၁၁။ | အသားတင်အမြတ် (ပုံမှန်နှစ်) | | |
| | - နိုင်ငံခြား ငွေဖြင့် | US$ ၁.၃၁ သန်း | |
| | - ကျပ်ငွေဖြင့် | ကျပ် ၆.၂၂ သန်း | |
| ၁၂။ | နိုင်ငံတော်မှပုံမှန်နှစ်တွင်ရရှိမည့် အကျိုးအမြတ် | | |
| | - ဝင်ငွေခွန် (US$) | US$ ၀.၂၃ သန်း | |
| | (ကျပ်) | ကျပ် ၂.၆၆ သန်း | |
| | - ကုန်သွယ်လုပ်ငန်းခွန် (ကျပ်) | ကျပ် ၈၁.၇၆ သန်း | |
| ၁၃။ | တည်ဆောက်မှုကာလ | (၁၂) လ | |
| ၁၄။ | ဝန်ထမ်း အင်အား | <u>၂၇၄ ဦး</u> | |
| | - ပြည်တွင်း | ၂၇၀ ဦး | |
| | - ပြည်ပ | ၄ ဦး | |
| ၁၅။ | အခြား | - စက်ပစ္စည်းနှင့်ကုန်ကြမ်းပစ္စည်း များ ကိုစင်ကာပူနိုင်ငံ M.Mark (Asia) Pte Ltd. - မှ ရွှေဆိုင်း ငွေပေး ချေခြင်း စနစ်ဖြင့်ဝယ်ယူမည်ဖြစ်ပြီး တစ်နှစ်လျှင်အတိုးနှုန်း ၅% ဖြင့် (၄) နှစ်အတွင်းပြန်လည် ပေးဆပ်ရမည်ဖြစ်ပါသည်။ | |

- Snack Food များဖြစ်သည့် Prawn Cracker, Pillow Cracker, Prawn Stick များကို Mikko အမှတ်တံဆိပ်များဖြင့်ထုတ်လုပ်မည်ဖြစ်ပါသည်။
- လိုအပ်သောကုန်ကြမ်းများကိုပြည်တွင်းပြည်ပမှဝယ်ယူမည်ဖြစ်ပါသည်။
- စက်ပစ္စည်းစာရင်းတွင် Saloon (သို့) Wagon (၂) စီး၊ Pick-up (၂) စီး၊ Truck (2 ton and up) (၂) စီး၊ Air Conditioner (၁၂) လုံး ပါဝင်ပါသည်။
- ဤလုပ်ငန်း ဆောင်ရွက်ရန်အတွက်အမှတ် (၁) စက်မှုဝန်ကြီး ဌာနသို့သဘောထားမှတ်ချက်တောင်းခံထားဆဲဖြစ်ပါသည်။
- ဤလုပ်ငန်း သည်မြန်မာနိုင်ငံသားများသာ လျှင်ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ကြောင်း၊ မြေငှားရမ်းခြင်း နှင့်ပတ်သက်၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍သတ်မှတ်ပြဌာန်းမည့်စည်းကမ်းများကိုလိုက်နာမည်ဖြစ်ကြောင်း နှင့်ပတ်ဝန်းကျင်ညစ်ညမ်းမှုမီး ဘေးအန္တရာယ်များ မဖြစ်ပွားစေရန်လိုအပ်သောအစီအမံများ ထားရှိမည်ဖြစ်ကြောင်းဝန်ခံကတိပြုထားပါသည်။



မ၁ * ၃၀/၁၂/၉၇။